၁၄-၅-၉၆
(၂၂/၉၆) ဗိုလ်မှူးချုပ်
ဇာ...



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီး ချုပ်ရုံး
ရန်ကုန်မြို့

စာအမှတ်၊ (ဒု)၀၁၇/ ရင်း နှီး /၁ (၁၇)။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဇွန်လ ၁၄ ရက်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုး ရအဖွဲ့သို့</u>
<u>တင်ပြသည့်အမှာစာ</u>

အကြောင်းအရာ။ ။ <u>ဇီဇဝါကုမ္ပဏီလီမိတက်မှ သစ်အခြေခံကုန် ချောများ ထုတ်လုပ်ဖြန့်ဖြူး ရောင်း ချခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ</u>။

၁။ မြန်မာနိုင်ငံမှဇီဇဝါကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း ၊ မှော်ဘီမြို့နယ်၊ တပ်ကြီး ကုန်း ကျေး ရွာအုပ်စု ရှိ ၄င်း ကုမ္ပဏီပိုင် မြေ နေရာတွင်သစ်အ ချော ထည့်စက်ရုံတည် ဆောက်၍သစ်အ ခြေခံကုန် ချောများ ထုတ်လုပ်ဖြန့်ဖြူး ရောင်း ချသည့် လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုချက်ကို (၁၀-၅-၉၆) နေ့တွင်ကျင်း ပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်၏ (၇/၉၆) ကြိမ် မြောက်အစည်းအဝေး တွင်တင်ပြခဲ့ရာ ကော်မရှင်မှ မူအား ဖြင့်သဘောတူညီပြီး ၊ အစိုး ရအဖွဲ့သို့ ဆက်လက် တင်ပြရန်ဆုံး ဖြတ်ခဲ့ပါသည်။ ယင်း ဆုံး ဖြတ်ချက်အရ အစိုး ရအဖွဲ့သို့ ဆက်လက်တင်ပြ ခြင်း ဖြစ်ပါသည်။ ယင်း အဆိုပြုချက်ကို <u>နောက်ဆက်တွဲ (၁)</u>အဖြစ် ပေး ပို့ထား ပါ သည်။

၂။ ဤလုပ်ငန်း ၏ ပတည် ငွေရင်း ပမာဏမှာ ကျပ် ၁၂.၅သန်း ဖြစ်ပါ သည်။ ကုမ္ပဏီပိုင်သည့် မြေကို ကျပ် ၂.၈သန်း တန်ဖိုး သင့်၍ ထည့်ဝင်ထား ပါသည်။

၃။ ဤလုပ်ငန်း ကို ဆောင်ရွက်ရန်အတွက် ရန်ကုန်တိုင်း ၊ မှော်ဘီမြို့ နယ်၊ တပ်ကြီး ကုန်း ကျေး ရွာအုပ်စု၊ ရွာသစ်ကွင်း ၊ ကွင်း အမှတ် ၅၈၄၊ ဦး ပိုင် အမှတ်၈၅/၁၃၊ ၈၆၊ ၈၈ ရှိ ၂.၅၄ ဧက (၁၀၂၇၉.၀၂စတုရန်း မီတာ)

ကျယ်ဝန်း သောကုမ္ပဏီပိုင်မြေနေရာတွင် ၃၄၀၀ စတုရန်းပေ(၁၁၅.၉၉ စတုရန်းမီတာ)ကျယ်ဝန်း သောအဆောက်အဦ ၃လုံး တည်ဆောက်ကာသစ်အချော ထည်စက်ရုံတည်ဆောက်မည်ဖြစ်ပါသည်။ ဤလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာ သည် မူလပိုင်ရှင်ဦး ဘိုနီထံမှ ဇီဇဝါကုမ္ပဏီအနေနှင့်အ ရောင်း အဝယ်စာချုပ်ဖြင့် ဝယ်ယူထားပြီး စာချုပ်စာတမ်းများကိုမှတ်ပုံတင်ထားပါသည်။ အဆိုပါမြေ၏ ပိုင်ဆိုင်မှုအခြေအနေမှာအငှား ဂရန်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ ဤလုပ်ငန်း မှကျွန်းသစ်နှင့်သစ်မာဖြင့်ပြုလုပ် သောသစ်အခြေခံ ထွက်ကုန်ပစ္စည်းများ ဖြစ်သည့်ကြမ်းခင်းတုံးများ၊ တံခါးကျည်း ဘောင်များ၊ တံခါးရွက်များ၊ ပရိဘောဂများ၊ ပုံဖော်သစ်အမျိုးမျိုး၊ ထုပ်ပိုး သေတ္တာများ အတွက်လိုအပ် သောသစ်ပိုင်း သစ်စများ စသည်တို့ကိုထုတ်လုပ်မည်ဖြစ်ပါသည်။ လိုအပ် သောကျွန်း နှင့်သစ်မာကုန်ကြမ်းများကို မြန်မာ့သစ်လုပ်ငန်း မှတင်ဒါဈေးပြိုင် စနစ်ဖြင့်ရောင်းချပေးခြင်း မှလည်းကောင်း၊ သစ်လုပ်ငန်း ဖက်စပ်ကော် ပိုရေးရှင်း မှလည်းကောင်း၊ သစ်ကုန်ကြမ်းတရားဝင်ရောင်းချခွင့်ရရှိထား သည့်ပုဂ္ဂလိကလုပ်ငန်းရှင်များ မှလည်း ကောင်း၊ နိုင်ငံခြား ငွေဖြင့်ဖြစ်စေ၊ ကျပ်ငွေဖြင့်ဖြစ်စေ ဝယ်ယူမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်း မှသစ်အခြေခံထွက်ကုန်ပစ္စည်းများကို နှစ်စဉ် ၆၉၅ **Hopus Ton** ထုတ်လုပ်ရန်ရည်ရွယ်ထားပြီး ထုတ်လုပ်မှု၏ ၈၀ ရာခိုင်နှုန်း ကိုပြည်ပသို့တင်ပို့ရောင်းချရန်နှင့် ၂၀ ရာခိုင်နှုန်းကို ပြည်တွင်း ရောင်းချ ရန်ရည်ရွယ်ထားပါသည်။ ဤလုပ်ငန်း၏သက်တမ်း ၁၀နှစ်အတွင်း ပုံမှန်ထုတ်လုပ် သည့်နှစ်တွင်ရောင်းချမည့်ပြည်တွင်း ပြည်ပရောင်းဈေးနှုန်းများမှာ အောက် ပါအတိုင်း ဖြစ်ပါသည်။

| | ပြည်တွင်း<br>ကျပ်ထောင်ပေါင်း/ Hopus Ton | ပြည်ပ<br>အမေရိကန်ဒေါ်လာ/ Hopus Ton |
|---|---|---|
| တံခါးရွက်များ (ကျွန်းသစ်) | ၃၃၀ | ၃၈၀၀ |
| တံခါးရွက်များ (သစ်မာ) | ၁၄၀ | ၁၄၀၀ |
| ပရိဘောဂများ(ကျွန်းသစ်) | ၂၈၀ | ၂၈၀၀ |
| ပရိဘောဂများ(သစ်မာ) | ၁၂၀ | ၁၂၀၀ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် တစ်နှစ်ပျမ်းမျှ ရရှိမည့်ဝင်ငွေနှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | ပြည်တွင်း | နိုင်ငံခြား | ကျပ်သန်း<br>စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၃၂.၀၆ | ၈.၄၂ | ၄၀.၄၈ |
| (ခ) | အသုံး စရိတ် | ၄၂.၁၃ | ၅.၉၀ | ၄၈.၀၃ |
| (ဂ) | အမြတ် | (-) ၁၀.၀၇ | ၂.၅၂ | (-) ၇.၅၅ |
| (ဃ) | ကုန်သွယ်မှုလုပ်ငန်းမှ အသားတင်အမြတ်/ အရှုံး | ၁၀.၁၇ | (-) ၀.၆၀ | ၉.၅၇ |
| (င) | အသားတင်အမြတ် | ၀.၁၀ | ၁.၉၂ | ၂.၀၂ |

၇။ နှစ်စဉ်ဝင်ငွေနှင့်အသုံး စရိတ်တွက်ချက်မှုတွင် နိုင်ငံခြား ငွေ အပိုင်း၌သာအမြတ်ရရှိပြီး ကျပ်ငွေပိုင်း၌နှစ်စဉ်အရှုံး ပေါ်နေသဖြင့်အရှုံးကို ကာမိစေရန်ကုန်သွယ်မှုလုပ်ငန်းကိုပူးတွဲဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထား ပါသည်။

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှနှစ်စဉ်ပျမ်းမျှ ကုန်သွယ်လုပ်ငန်း ခွန်ကျပ် ၈.၀၂သန်း ရရှိမည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် ပြည်တွင်း မှဝန်ထမ်း ၃၅ဦး ခန့်ထား မည်ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်း ဆောင်ရွက်ရန်ကိစ္စနှင့်ပတ်သက်၍ သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထား မှတ်ချက် တောင်းခဲ့ရာဝန်ကြီးဌာနအနေဖြင့်လုပ် ငန်း ဆောင်ရွက်ရန်အတွက် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားလာပါသည်။

၁၁။ ဤလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ သာ လျှင်ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြား မှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းနှင့် မြေအသုံး ပြုခြင်း နှင့်ပတ်သက်၍ နိုင်ငံတော်မှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြ ဌာန်း မည့်စည်းကမ်း သတ်မှတ်ချက်များ ကိုလိုက်နာ ဆောင်ရွက်မည်ဟု ကတိဝန်ခံ ချက် ပေး ထား ပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၁၂) နှင့်(၁၃)ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ဖျော်ပြထားလာပါသည်။ ဥပဒေပုဒ်မ(၁၂)အရစီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း ၃နှစ်အထွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ(၁၃)တွင်ဖော်ပြထားသည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ အနက်လုပ်ငန်းနှင့်သင့်လျော်သည့်အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုရန် ကော်မရှင်မှဆုံးဖြတ်ခဲ့ပါသည်။

၁၃။ <u>ဆုံးဖြတ်ရန်အချက်</u>။

ဇီဇဝါကုမ္ပဏီလီမိတက်မှသံစိအခြေခံကုန်ချောများထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ-မတူ။

၁၄။ <u>ဒုတိယဝန်ကြီးချုပ်ရုံး၏ထောက်ခံချက်</u>။

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ ဗိုလ်မှူးချုပ်မောင်မောင် ]
ဝန်ကြီး
ဒုတိယဝန်ကြီးချုပ်ရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့</u>။



*ဖ၁၃/၆/၉၆။

၉.၂.၉၆
၇/၉၆ကြို/ရှ

# လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ

## (မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁ | လုပ်ငန်းအမည် | ZIZAWA CO., LTD.<br>(မြန်မာကုမ္ပဏီ) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည်<br>- လက်ရှိအလုပ်အကိုင် | ဦး ဝင်း သိန်း<br>ထုပ်ကုန်သွင်းကုန်နှင့်အထွေထွေရောင်းဝယ်ရေး လုပ်ငန်း |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ်ဖြန့်ဖြူးခြင်း) |
| ၄ | တည်နေရာ | ဦးပိုင်အမှတ် ၈၅/၁၃၊ ၈၆၊ ၈၈ကွင်း; အမှတ် ၅၈၄၊ ရွာသစ်ကွင်း၊ တပ်ကြီး ကုန်းကျေး ရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်မြောက်ပိုင်းခရိုင် |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၂.၅ သန်း<br>(ကျပ်သန်း ၁.၇ တန်ဖိုး ရှိအဆောက်အဦနှင့်ကျပ်သန်း ၂.၈ တန်ဖိုး ရှိကုမ္ပဏီပိုင်မြေကိုမတည်ငွေ ရင်း အဖြစ်ထည့်ဝင်ထား ပါသည်) |
| ၆ | <u>မြေအကြောင်း အရာ</u> | |
| | - မြေအကျယ်အဝန်း | ၂.၅၄ ဧက (၁၀၂၈၀ စတုရန်း မီတာ) |
| | - မြေပိုင်ဆိုင်မှု | ကုမ္ပဏီပိုင်မြေ |
| | - မြေအမျိုးအစား | ဥယျာဉ်ခြံမြေ |
| | - အသစ်ဆောက်လုပ်မည့် အဆောက်အဦ | ၄ လုံး |
| | - အကျယ်အဝန်း | ၅၅၀၀ စတုရန်းပေ (၅၁၁.၁၅ စတုရန်းမီတာ) |
| ၇ | နှစ်စဉ်ထုတ်လုပ်မှု<br>(ဟိုပတ်စ်တန်) | |
| | - တံခါး ရွက်များ (ကျွန်းသစ်) | ၃၀၀ |
| | 〃 (သစ်မာ) | ၁၈၀ |
| | ပရိဘောဂများ (ကျွန်းသစ်) | ၁၃၅ |
| | 〃 (သစ်မာ) | ၈၀ |

| | | | | |
|---|---|---|---|---|
| ၈ | ရောင်းချမည့်နည်းစနစ် | | | |
| | - ပြည်ပရောင်း | ၈၀ % | | |
| | - ပြည်တွင်းရောင်း | ၂၀ % | | |
| ၉ | ရောင်းဈေးနှုန်း | ပထမနှစ် | တတိယနှစ် | ပဉ္စမနှစ် |
| | - ပြည်ပ ( US $ / MT ) | | | |
| | - တံခါးရွက်များ ( ကျွန်းသစ် ) | ၃၀၀၀ | ၃၄၀၀ | ၃၈၀၀ |
| | ။ ( သစ်မာ ) | ၁၀၀၀ | ၁၂၀၀ | ၁၄၀၀ |
| | - ပရိဘောဂများ (ကျွန်းသစ် ) | ၂၀၀၀ | ၂၄၀၀ | ၂၈၁၀ |
| | ။ ( သစ်မာ ) | ၈၀၀ | ၁၀၀၀ | ၁၂၀၀ |
| | - ပြည်တွင်း | | | |
| | ( ကျပ်ထောင်ပေါင်း /MT ) | | | |
| | - တံခါးရွက်များ( ကျွန်းသစ် ) | ၂၅၀ | ၂၉၀ | ၃၃၀ |
| | ။ ( သစ်မာ ) | ၁၀၀ | ၁၂၀ | ၁၄၀ |
| | - ပရိဘောဂများ ( ကျွန်းသစ် ) | ၂၀၀ | ၂၄၀ | ၂၈၀ |
| | ။ ( သစ်မာ ) | ၈၀ | ၁၀၀ | ၁၂၀ |
| ၁၀ | ဝင်ငွေ ( သန်း ) | ပထမနှစ် | တတိယနှစ် | ပဉ္စမနှစ်မှစ၍ |
| | - အမေရိကန်ဒေါ်လာ | ၁ .၁၃ | ၁.၃၁ | ၁.၄၉ |
| | - ကျပ် | ၂၅.၂၈ | ၂၉.၈၀ | ၃၄.၃၂ |
| ၁၁ | အသားတင်အမြတ် ( သန်း ) | ပထမနှစ် | တတိယနှစ် | ပဉ္စမနှစ်မှစ၍ |
| | - အမေရိကန်ဒေါ်လာ | ၀.၂၆ | ၀.၃၀ | ၀.၃၄ |
| | - ကျပ် | (-) ၀.၈၄ | ၀.၀၅ | ၀.၃၈ |
| ၁၂ | ဝန်ထမ်းအင်အား | ၃၅ ဦး | | |
| | ( ပြည်တွင်း ) | | | |

| | | |
|---|---|---|
| ၁၃ | အခြား | - သစ်အချောကိုင်နှင့်ပုံစံပြုလုပ်သောစက်များ၊သစ်ခွဲစက်ကိရိယာများကိုပြည်တွင်း၌ဝယ်ယူထားပြီးဖြစ်ပါသည်။<br>- ဇီဇဝါကုမ္ပဏီလီမိတက်ကို ၆-၈-၉၀ နေ့တွင်မှတ်ပုံတင်ဖွဲ့စည်းထားကြောင်းနှင့်မြန်မာမေဖလီးဝါးဘဏ်လီမိတက်တွင် ၄-၁၀-၉၁ နေ့ရှိဘဏ်စာရင်းလက်ကျန်ကျပ် ၂.၃၄ သန်း ရှိကြောင်း တင်ပြထားပါသည်။<br>- သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်တောင်းခံရာတွင်သစ်အချောထည်စက်ရုံ တည်ဆောက်မှုအပေါ် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားလာပါသည်။<br>- ဤလုပ်ငန်းကိုမြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ကြောင်းနှင့်နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်ပါမည်ဟုဝန်ခံကတိပြုထားပါသည်။<br>- ကုန်ကြမ်းပစ္စည်းများအတွက်လိုအပ်သည့်ကျွန်းနှင့် အခြားသစ်မာများကိုမြန်မာ့သစ်လုပ်ငန်းမှ တင်ဒါဈေးပြိုင်စနစ်ဖြင့်ရောင်းချပေးခြင်းမှလည်းကောင်း၊ သစ်လုပ်ငန်းဖက်စပ်ကော်ပိုရေးရှင်းမှလည်းကောင်း၊ သစ်ကုန်ကြမ်းတရားဝင်ရောင်းချခွင့်ရရှိထားသည့်ပုဂ္ဂလိကလုပ်ငန်းရှင်များမှလည်းကောင်း၊ နိုင်ငံခြားငွေဖြင့်ဖြစ်စေ၊ ကျပ်ငွေဖြင့်ဖြစ်စေဝယ်ယူမည်ဖြစ်သည်။<br>- ဤလုပ်ငန်းမှကျပ်ငွေပိုင်းတွင်နှစ်စဉ်အရှုံးပေါ်နေသဖြင့်အရှုံးငွေကိုကာမိစေရန်ကုန်သွယ်မှုလုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ |